


**AUNG KYUN THAR CO., LTD.**
No. 138/142, Room No. 8B-C, White Cloud Condo., Thein Phyu Road,
Botahtaung Township, Yangon, Myanmar.
TEL : (951) 8610526, 8610527, 8610528, 8610529
FAX : (951) 8610530
E-Mail : aungkyunthar@myanmar.com.mm
aungkyunthar@akttrading.com


သို့/

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ။ ၅-၄-၂၀၁၈

အကြောင်းအရာ။ ။ လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု အစီအစဉ်တင်ပြခြင်း။

ကျွန်တော်များ အောင်ကျွန်းသာကုမ္ပဏီ အနေဖြင့် လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု အစီအစဉ်အနေဖြင့် အသားတင်အမြတ်ငွေ၏ ၂% (နှစ်ရာခိုင်နှုန်း)အား ထည့်ဝင်ရန် စီစဉ်ထားသည့်အပြင် စက်မှုကဏ္ဍဖွံ့ဖြိုးစေရန် ရည်ရွယ်ပြီး ကျွန်ုပ်တို့၏ဝန်ထမ်းများအတွက် စွမ်းရည်တည်ဆောက်ခြင်း မူဝါဒလမ်းစဉ်အား အသုံးပြုသွားရန်လည်းစီစဉ်ထားပါသည်။

(၁) ပညာရေးကဏ္ဍ

- ကွန်ပြူတာ အခြေခံသင်တန်းများ။ အင်္ဂလိပ်စာ အခြေခံသင်တန်းများ တက်ရောက်ရန် စီစဉ်ပေးခြင်း။
- တက္ကသိုလ် မပြီးသေးသော ဝန်ထမ်းများအား ဘွဲ့ရသည်အထိ လိုအပ်ချက်များအား ပံ့ပိုးကူညီခြင်း။
- ဝန်ထမ်းများ၏သား၊သမီး ကျောင်းသား၊ကျောင်းသူများအား ကျောင်းစရိတ်များ ထောက်ပံ့ပေးခြင်း။
- ဝန်ထမ်းများ အသိပညာတိုးတက်စေရန် နေ့စဉ်ထုတ်သတင်းစာများ၊ ဂျာနယ်များဖတ်ရှုနိုင်ရန် စီစဉ်ထားရှိခြင်း၊

(၂) ကျန်းမာရေး စောင့်ရှောက်မှုကဏ္ဍ

- ဝန်ထမ်းများအား အခါအားလျော်စွာ ကျန်းမာရေး စစ်ဆေးပေးခြင်း၊
- ဝန်ထမ်းများ နာမကျန်းဖြစ်လျှင် အခမဲ့ ဆေးကုသပေးခြင်း၊
- နာမကျန်းဝန်ထမ်းများအား လုပ်ခလစာဖြတ်တောက်ခြင်းမပြုပဲ အလုပ်မှအနားယူခွင့်ပြုခြင်း၊
- ဝန်ထမ်းများ၏ မိသားစုများ ဆေးကုသစရိတ်များ ထောက်ပံ့ပေးခြင်း၊
- ဒေသန္တရကျန်းမာရေးဌာန၏ အကူအညီဖြင့် ကျန်းမာရေးသင်တန်းများပို့ချခြင်း၊


**AUNG KYUN THAR CO., LTD.**
No. 138/142, Room No. 8B-C, White Cloud Condo., Thein Phyu Road,
Botahtaung Township, Yangon, Myanmar.
TEL : (951) 8610526, 8610527, 8610528, 8610529
FAX : (951) 8610530
E-Mail : aungkyunthar@myanmar.com.mm
aungkyunthar@akttrading.com

## (၃) လူမှုရေးကဏ္ဍ

- ဝန်ထမ်းများ နေထိုင်ရန် စက်ရုံဝင်းအတွင်း အိမ်ရာအခန်းများ စီစဉ်ပေးခြင်း၊
- ဝန်ထမ်းများ၊ ဝန်ထမ်းမိသားစုများ၏ သာရေး၊ နာရေးကိစ္စများအား ကူညီထောက်ပံ့ခြင်း၊
- ဝန်ထမ်းများအား လူမှုဖူလုံရေး စောင့်ရှောက်မှုအား အခမဲ့ပြုလုပ်ပေးခြင်း၊
- ဝန်ထမ်းမိသားစုများ၏ သာရေး၊ နာရေး၊ လူမှုကိစ္စများအား ကူညီထောက်ပံ့ဆောင်ရွက်ပေးခြင်း၊
- စက်ရုံဝင်းအတွင်း ဝန်ထမ်းများ အလုပ်ချိန်ပြင်ပ အပန်းဖြေအနားယူနိုင်ရန် နေရာများစီစဉ်ထားပေးခြင်း၊
- ဝန်ထမ်းများ၊ ဝန်ထမ်းမိသားစုများ၏ စိတ်ပျော်ရွှင်ကျန်းမာစေရန် နှစ်စဉ် အပန်းဖြေခရီးများ စီစဉ်ပို့ဆောင်ပေးခြင်း၊

## (၄) သဘာဝဘေးအန္တရာယ် ကာကွယ်ရေး

- ဝန်ထမ်းများအား သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး ပညာပေးသင်တန်းများအား တက်ရောက်စေခြင်း၊ လက်တွေ့ လေ့ကျင့်သင်ကြားပေးခြင်း၊
- အခြေခံ ရှေးဦးသူနာပြုသင်တန်းများအား ရွှေပြည်သာမြို့နယ်ကြက်ခြေနီအသင်း၏အကူအညီဖြင့် သင်ကြားပို့ချခြင်း၊
- စက်ရုံအတွင်း သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများ ချမှတ်ဆောင်ရွက်ခြင်း၊

## (၅) ဒေသခံပြည်သူများ ဖွံ့ဖြိုးရေး

- စက်ရုံပတ်ဝန်းကျင်ရပ်ကွက်များတွင် နေထိုင်သူများ၏ သာရေး၊ နာရေး၊ လူမှုကိစ္စများအား ကူညီထောက်ပံ့ဆောင်ရွက်ပေးခြင်း၊
- စက်ရုံပတ်ဝန်းကျင်ရပ်ကွက်များရှိ ဘုန်းကြီးကျောင်းများအား အခါအားလျော်စွာ လိုအပ်သည်များ လှူဒါန်းခြင်း၊
- ရပ်ကွက်အတွင်း လမ်းများပြုပြင်ဖောက်လုပ်ရာတွင် ပံ့ပိုးကူညီလှူဒါန်းခြင်း၊

လေးစားစွာဖြင့်

SOE LINN AUNG
DIRECTOR
AUNG KYUN THAR CO.,LTD.

(လျှောက်ထားသူအမည်နှင့် လက်မှတ်)